

အမေရိကန်ပြည်ထောင်စု၊ ကာလီဖိုးနီးယားပြည်နယ်၊ ဖရီးမောင့်မြို့။

မေတ္တာနန္ဒဝိဟာရ ဓမ္မရိပ်သာ

# မေတ္တာရောင်ခြည် ဘုရားရှိခိုး

ဒီဇိုင်း ပန်းချီအောင်မင်းမင်း(AMM)

အမေရိကန်ပြည်ထောင်စု၊ ကာလီဖိုးနီးယားပြည်နယ်၊ ဖရီးမောင့်မြို့။

မေတ္တာနန္ဒဝိဟာရ ဓမ္မရိပ်သာ

# မေတ္တာရောင်ခြည် ဘုရားရှိခိုး



ဒီဇိုင်း ပန်းချီအောင်မင်းမင်း(AMM)

သာသနာ-၂၅၅၆ ကောဇာ-၁၃၇၅ ခရစ်-၂၀၁၂

အမေရိကန်ပြည်ထောင်စု

ကာလီဖိုးနီးယားပြည်နယ် ဖရီးမောင့်မြို့
မေတ္တာနန္ဒဝိဟာရ ဓမ္မရိပ်သာ

# မေတ္တာရောင်ခြည် ဘုရားရှိခိုး

ဦးဃောသိတာဘိဝံသ စုစည်းပူဇော်သည်။



သာသနာ–၂၅၅၆ ကောဇာ–၁၃၇၅ ခရစ်–၂၀၁၃

# မာတိကာ

နမော တဿ ဘဂဝတော အရဟတော သမ္မာသမ္ဗုဒ္ဓဿ

# ပဋိပတ္တိပူဇနာကာရဘုရားရှိခိုး

## ၁။ ဗုဒ္ဓေါ သောဘဂဝါ ဗောဓာယ ဓမ္မံ ဒေသေတိ။

သောဘဂဝါ = ကျွန်ုပ်တို့အများ၏ အားထားကိုးကွယ်ရာအစစ် ဖြစ်တော်မူသော ထိုမြတ်စွာဘုရားသည်၊

**ဗုဒ္ဓေါ = သစ္စာလေးပါး အမှန်တရားကို ပိုင်းခြား ထင်ထင် သိမြင်တော်မူပြီးသည်ဖြစ်၍၊**

**ဗောဓာယ = သတ္တဝါအများ ကျွန်ုပ်တို့အားလည်း အလားတူပင် သိမြင်ကြပါစေခြင်းအကျိုးငှာ၊**

**ဓမ္မံ = သစ္စာလေးတန် တရားမှန်ကို၊**

ဒေသေတိ = ကရုဏာရှေ့သွား ပညာအားဖြင့် ဟောကြားတော်မူခဲ့ပါပေ၏။

တံ ဘဂဝန္တံ = သက်တော်ထင်ရှား ထိုမြတ်စွာဘုရားကို၊

အဟံ = အကျွန်ုပ်သည်၊

ဝန္ဒာမိ = ရိုသေမြတ်နိုး လက်အုပ်မိုး၍ ရှိခိုးပူဇော်ပါ၏ အရှင်ဘုရား။

## ၂။ ဒန္တော သောဘဂဝါ ဒမထာယ ဓမ္မံ ဒေသေတိ။

သောဘဂဝါ = ကျွန်ုပ်တို့အများ၏ အားထားကိုးကွယ်ရာအစစ် ဖြစ်တော်မူသော ထိုမြတ်စွာဘုရားသည်၊

**ဒန္တော = မြင်ကြားတွေ့ရာ ကြံသိရာမှ ကိလေသာ အညစ်အကြေး ကင်းစင်ဝေးလျက် ယဥ်ကျေးတော်မူပြီးသည်ဖြစ်၍၊**

**ဒမထာယ = သတ္တဝါအများ ကျွန်ုပ်တို့အားလည်း အလားတူစွာ ကိလေသာအညစ်အကြေး ကင်းစင်ဝေးလျက် ယဥ်ကျေးကြပါစေခြင်း အကျိုးငှာ၊**

**ဓမ္မံ = ယဥ်ကျေးစေရန် တရားမှန်ကို၊**

ဒေသေတိ = ကရုဏာရှေ့သွား ပညာအားဖြင့် ဟောကြားတော်မူခဲ့ပါပေ၏။

တံ ဘဂဝန္တံ = သက်တော်ထင်ရှား ထိုမြတ်စွာဘုရားကို၊

အဟံ = အကျွန်ုပ်သည်၊

ဝန္ဒာမိ = ရှိသေမြတ်နိုး လက်အုပ်မိုး၍ ရှိခိုးပူဇော်ပါ၏ အရှင်ဘုရား။

## ၃။ သန္တော သောဘဂဝါ သမထာယ ဓမ္မံ ဒေသေတိ။

| | | |
|---|---|---|
| သောဘဂဝါ | = | ကျွန်ုပ်တို့အများ၏ အားထားကိုးကွယ်ရာအစစ် ဖြစ်တော်မူသော ထိုမြတ်စွာဘုရားသည်။ |
| **သန္တော** | = | **ရာဂစသား အလှုပ်အရှားကင်းလျက် ငြိမ်သက် ငြိမ်းအေးတော်မူပြီးသည်ဖြစ်၍၊** |
| **သမထာယ** | = | **သတ္တဝါအများ အကျွန်ုပ်တို့အားလည်း အလားတူစွာ ငြိမ်သက် ငြိမ်းအေးကြပါစေခြင်း အကျိုးငှာ၊** |
| **ဓမ္မံ** | = | **ငြိမ်သက်စေရန် တရားမှန်ကို၊** |
| ဒေသေတိ | = | ကရုဏာရှေ့သွား ပညာအားဖြင့် ဟောကြားတော်မူခဲ့ပါပေ၏။ |
| တံဘဂဝန္တံ | = | သက်တော်ထင်ရှား ထိုမြတ်စွာဘုရားကို၊ |
| အဟံ | = | အကျွန်ုပ်သည်၊ |
| ဝန္ဒာမိ | = | ရိုသေမြတ်နိုး လက်အုပ်မိုး၍ ရှိခိုးပူဇော်ပါ၏ အရှင်ဘုရား။ |

## ၄။ တိဏ္ဏော သောဘဂဝါ တရဏာယ ဓမ္မံ ဒေသေတိ။

သောဘဂဝါ = ကျွန်ုပ်တို့အများ၏ အားထားကိုးကွယ်ရာအစစ် ဖြစ်တော်မူသော ထိုမြတ်စွာဘုရားသည်၊

**တိဏ္ဏော** = **သြဃလေးဖြာ သံသရာ၏ ဟိုမှာကမ်းရောက် နိဗ္ဗာန်ပေါက်အောင် ကူးမြောက်တော်မူပြီးသည် ဖြစ်၍။**

**တရဏာယ** = **သတ္တဝါအများ အကျွန်ုပ်တို့အားလည်း အလားတူစွာ ကူးမြောက်ကြပါစေခြင်း အကျိုးငှာ၊**

**ဓမ္မံ** = **ကူးမြောက်စေရန် တရားမှန်ကို၊**

ဒေသေတိ = ကရုဏာရှေ့သွား ပညာအားဖြင့် ဟောကြားတော်မူခဲ့ပါပေ၏။

တံ ဘဂဝန္တံ = သက်တော်ထင်ရှား ထိုမြတ်စွာဘုရားကို၊

အဟံ = အကျွန်ုပ်သည်၊

ဝန္ဒာမိ = ရိုသေမြတ်နိုး လက်အုပ်မိုး၍ ရှိခိုးပူဇော်ပါ၏ အရှင်ဘုရား။

**၅။ ပရိနိဗ္ဗုတော သောဘဂဝါ ပရိနိဗ္ဗာနာယ ဓမ္မံ ဒေသေတိ။**

သောဘဂဝါ = ကျွန်ုပ်တို့အများ၏ အားထားကိုးကွယ်ရာအစစ် ဖြစ်တော်မူသော ထိုမြတ်စွာဘုရားသည်၊

**ပရိနိဗ္ဗုတော = ကိလေသာခပ်သိမ်း အလုံးစုံငြိမ်းပြီးသည်ဖြစ်၍၊**

**ပရိနိဗ္ဗာနာယ = သတ္တဝါအများ အကျွန်ုပ်တို့အားလည်း အလားတူစွာ ကိလေသာခပ်သိမ်း ငြိမ်းကြပါစေခြင်းအကျိုးငှာ၊**

**ဓမ္မံ = ကိလေသာငြိမ်းရန် တရားမှန်ကို၊**

ဒေသေတိ = ကရုဏာရှေ့သွား ပညာအားဖြင့် ဟောကြားတော်မူခဲ့ပါပေ၏။

တံ ဘဂဝန္တံ = သက်တော်ထင်ရှား ထိုမြတ်စွာဘုရားကို၊

အဟံ = အကျွန်ုပ်သည်၊

ဝန္ဒာမိ = ရိုသေမြတ်နိုး လက်အုပ်မိုး၍ ရှိခိုးပူဇော်ပါ၏ အရှင်ဘုရား။

*မဟာစည်ဆရာတော်*

# ခုနစ်နေ့ ဘုရားရှိခိုး

## (၁) ပဋိသန္ဓေယူတော်မူသောနေ့ (ကြာသပတေးနေ့)

သုံးလူ့ရှင်ပင်၊ ကျွန့်ထိပ်တင်၊
သောင်းခွင်စကြာဝဠာ၊ နတ်ပြဟ္မာတို့၊
ညီညာရုံးစု၊ တောင်းပန်မှုကြောင့်၊
ရတုနဂိုရ်၊ ရွှန်းရွှန်းစိုသည့်၊
ဝါဆိုလပြည့်၊ ကြွက်မင်းနေ့ဝယ်၊
ချမ်းမြေ့ကြည်ဖြူ၊ သန္ဓေယူသည့်၊
နတ်, လူ ငြိမ်းဖို့ကိန်းပါကို ။ ။ ။

## (၂) ဖွားတော်မူသောနေ့ (သောကြာနေ့)

သန္ဓေယူကာ၊ ဆယ်လကြာသော်၊
မဟာသက္ကရာဇ်၊ ခြောက်ဆယ့်ရှစ်ကြုံ၊
ကဆုန်လပြည့်၊ သောကြာနေ့ဝယ်၊
ချမ်းမြေ့စုံစီ၊ လုမ္ဗိနီ၌၊
မဟီလှိုက်ဆူ၊ ဖွားတော်မူသည့်၊
နတ်လူအောင်မြို့လမ်းပါကို ။ ။ ။

## (၃) တောထွက်တော်မူသောနေ့ (တနင်္လာနေ့)

ဖွားမြင်မြောက်သော်၊ ဆယ့်ခြောက်နှစ်ရွယ်၊
ပျိုနုနယ်၌၊ သုံးသွယ်ရွှေနန်း၊
သိမ်းမြန်းပြီးလစ်၊ ဆယ့်သုံးနှစ်လျှင်
ဘုန်းသစ်လျှံလူ၊ စံတော်မူ၍၊
ရွယ်မူနုဖြိုး၊ နှစ်ဆယ့်ကိုးဝယ်၊
လေးမျိုးနိမိတ်၊ နတ်ပြပကိတ်ကြောင့်၊
ရွှေစိတ်ငြင်ငြို၊ သံဝေပိုက၊
ဝါဆိုလပြည့်၊ ကျားမင်းနေ့ဝယ်၊
ချမ်းမြေ့ရဂုံ၊ တောရပ်လုံ့သည်၊
စုံမြိုင်ပင်ရိပ် ခမ်းမှာကို ။ ။ ။ ။

## (၄) ဘုရားဖြစ်တော်မူသောနေ့ (ဗုဒ္ဓဟူးနေ့)

တောရပ်မြိုင်ပေါ်၊ ခြောက်နှစ်ပျော်၍၊
ခါတော်တဖုံ၊ ပွင့်ချိန်ကြုံက၊
ကဆုန်လပြည့်၊ ဆင်မင်းနေ့ဝယ်၊
မြေ့ပရမေ၊ ပလ္လင်ဗွေထက်၊
ရွှေညောင်တော်ကြီး၊ ဗိတာန်ထီးနှင့်၊
မငြီးကြည်ဖြူ၊ နေတော်မူလျက်၊

ရန်မြူခပင်း၊ အမိုက်သင်းကို၊
အရှင်းပယ်ဖျောက်၊ အလင်းပေါက်ကာ၊
ထွန်းတောက်ဘုန်းတော်၊ သောင်းလုံးကျော်သည့်၊
သုံးဖော်လူတို့ ငြိမ်းပါကို . . .။

## (၅) ဓမ္မစကြာဟောတော်မူသောနေ့ (စနေနေ့)

ဘုရားဖြစ်ခါ၊ မိဂဒါသို့၊
စကြာရွှေဖဝါး၊ ဖြန့်ချီသွား၍၊
ငါးပါးဝဂ္ဂီ၊ စုံအညီနှင့်၊
မဟီတစ်သောင်း၊ တိုက်အပေါင်းမှ၊
ခညောင်းကပ်လာ၊ နတ်ပြဟ္မာအား၊
ဝါဆိုလပြည့်၊ စနေနေ့ဝယ်၊
ကြွေ့ကြွေ့လျှံတက်၊ ဓမ္မစက်ကို၊
မိန့်မြွက်ထွေပြား၊ ဟောဖော်ကြားသည့်၊
တရားနတ်စည်၊ ရွှမ်းတယ်ကို . . .။

## (၆) ပရိနိဗ္ဗာန်စံတော်မူသောနေ့ (အင်္ဂါနေ့)

တရားနတ်စည်၊ ဆော်ရွှမ်းလည်ကာ၊
သုံးမည်ဘုံသိုက်၊ တစ်သောင်းတိုက်ဝယ်၊

ကျွတ်ထိုက်သသူ၊ နတ်, လူ, ဗြဟ္မာ၊
သတ္တဝါကို၊ ခေမာသောင်သို့၊
ဖောင်ကူးတို့ဖြင့်၊ ဆောင်ပို့ပြီးကာ၊
ဝါလေးဆယ့်ငါး၊ သက်ကားရှစ်ဆယ်၊
စုံပြည့်ကြွယ်က၊ ရာလေးဆယ့်ရှစ်၊
သက္ကရာဇ်ဝယ်၊ နယ်မလ္လာတိုင်း၊
စံနှိုင်းမယုတ်၊ ကုသိနာရုံ၊
အင်ကြင်းစုံ၌၊ ကဆုန်လပြည့်၊
အင်္ဂါနေ့ဝယ်၊ ချမ်းမြေ့နိဗ္ဗူ၊
စံတော်မူသည်၊ ဝှန်းဆူသောင်းလုံး
ကျော်တယ်ကို ။ ။ ။॥

## (၇) တေဇောဓာတ်လောင်တော်မူသောနေ့ (တနင်္ဂနွေနေ့)

နိဗ္ဗူစံပြီး၊ ရှုမအီသား၊
သိင်္ဂီရွှေလျော်၊ အလောင်းတော်ကို၊
ထိုရော်ကဆုန်၊ လဆုတ်ကြံ့၍၊
ဂဠုန်နေ့ဝယ်၊ ခိုးငွေ့မနှော၊
ဓာတ်တေဇောလျှင်၊ ရှင်စောဉာဏ်စက်၊
ဓိဋ္ဌာန်ချက်ဖြင့်၊ လျှံတက်ကော်ရော်၊
မီးပူဇော်သည်၊ မွေတော်ရှစ်စိတ် ကြွင်းတယ်ကို ။ ။ ။॥

## ဆုတောင်း အမျှဝေ

ထိုခုနှစ်နေ့၊ သာချမ်းမြေ့ကို၊
ဆွေ့ဆွေ့ကြည်ဖြူ၊ အာရုံယူလျက်၊
သုံးလူတို့နတ်၊ မြတ်ထက်မြတ်သား၊
ကိုယ်တော်ဖျားကို၊ သုံးပါးမွန်စွာ၊
ဝန္ဒနာဖြင့်၊ သဒ္ဓါဖြိုးဖြိုး၊
ကျွန်ုပ်ရှိခိုးသည်၊ ကောင်းကျိုးခပ်သိမ်း
ကြွယ်စေသော် ။ ။ ။ ။

အဆုံးဘဝ၊ တိုင်ပြန်ကလည်း
ပညာ့အရာ၊ ဘိဓမ္မာနှင့်၊
ကြေညာကျော်ကြား၊ လူအများကို၊
တရားစည်ကြီး၊ ခြိမ့်ခြိမ့်တီး၍၊
မီးဆယ့်တစ်တန်၊ ငြိမ်းရာမှန်သည့်၊
နိဗ္ဗာန်အောင်မြို့ ရောက်စေသော်။

သုံးလူ့ထွတ်ထား၊ မြတ်တရားနှင့်၊
ရှစ်ပါးသံဃာ၊ ရတနာကို၊
သဒ္ဓါရိုကျိုး၊ လက်စုံမိုး၍၊
ရှိခိုးပါရ၊ ဤပုညကြောင့်၊
ဒိဋ္ဌမျက်မြင်၊ ဘဝတွင်လည်း၊

ကင်းစင်အန္တရာယ်၊ ကောင်းကျိုးကြွယ်လျက်၊
ဆယ်ဖြာအညီ၊ ပါရမီနှင့်
ဆယ်လီပုည၊ မြတ်ဓမ္မလည်း၊
နိစ္စရှင်ဖြိုး၊ နေ့စဉ်တိုးသည့်၊
သက်ဖိုးကြာမြင် ရှည်စေသော်။

ဘဝတဖန်၊ ဖြစ်တုံပြန်လည်း
လေးတန်အပါယ်၊ ရှစ်သွယ်ရပ်ပြစ်၊
ကင်းတုံလစ်၍၊ ရှင်ချစ်မြတ်စွာ၊
သာသနာလျှင်၊ ရောင်ဝါထိန်ဝင်း
လင်းရာတမူ၊ လူကောင်းနတ်ကောင်း၊
ဘဝကောင်း၌၊ ညွတ်ညောင်းသန္ဓေ၊
တိဟိတ်နေ၍၊ ဆွေလယ်မျိုးလယ်၊
တန်ခိုးကြွယ်သည့်၊ လ နှယ်ထွန်းတင့်ပါစေသော်။

အသိအလိမ္မာ၊ ဉာဏ်ပညာနှင့်၊
သဒ္ဓါသီလ၊ သုတပြည့်ဖြိုး၊
ဂုဏ်တန်ခိုးလည်း၊ အမျိုးလေးဖော်၊
သတင်းကျော်လျက်၊ သူတော်တို့နှုန်း၊
ကျင့်ထုံးတရား၊ အမှားမလိုက်၊
စရိုက်စင်ဖြူ၊ အလှူရေစက်၊
လက်နှင့်မကွာ၊ ရှစ်ဖြာဥပုသ်၊

မယုတ်ကြိုးစား၊ လေးပါးပြဟ္မစိုရ်၊
ရွှန်းရွှန်းစိုသည့်၊ ကုသိုလ်ကိုယ်လုံးထုံစေသော်။
ပတ္တမြားပလ္လင်၊ ကံ့ကော်ပင်ဝယ်၊
ငါးအင်မာရ်စစ်၊ အောင်ပွဲလှစ်၍၊
ခေတ်ဇာတိလုံး၊ သိမ့်သိမ့်ချုန်းလျက်
ရွှေဘုန်းစိုက်ထူ၊ ပွင့်တော်မူသား၊
သုံးလူ့သခင်၊ မိတေးရှင်ကို၊
မျက်မြင်ဖူး၍၊ အထူးကြည်ညို၊
ဘုန်းရိပ်ခိုသည့်၊ မဂ် ဖိုလ် နိဗ္ဗာန်ရောက်စေသော်။

သုံးလူထွတ်ထား၊ မြတ်တရားနှင့်၊
ရှစ်ပါးသံဃာ၊ အရိယာအား၊
ရတနာမိုး၊ ရွာသွန်းဖြိုး၍၊
ကိုးပါးခြောက်စုံ၊ ကိုးရပ်ဂုဏ်ကို၊
အာရုံချီးကျူး၊ နှုတ်လျှာမြူး၍
ကြည်နူးဆွဲဆွဲ၊ ရှိခိုးရသည့်၊
ပုညကုသိုလ်၊ အဖို့ကိုလည်း
မွေးမိခင်နှင့်၊ ဖခင် ဆရာ၊
ဉာတကာက၊ သတ္တဝါအများ၊
နတ်တို့အားလည်း ရငြားပါစေ၊
အမျှဝေသည့်၊ ကောင်းထွေ သာဓုခေါ်စေသော်။

***လယ်တီဆရာတော်***

# ဘုရားဂုဏ်တော်(၉)ပါး

**ဣတိပိ သော ဘဂဝါ အရဟံ , သမ္မာသမ္ဗုဒ္ဓေါ၊ ဝိဇ္ဇာစရဏသမ္ပန္နော၊ သုဂတော၊ လောကဝိဒူ၊ အနုတ္တရော ပုရိသဒမ္မသာရထိ၊ သတ္ထာ ဒေဝမနုဿာနံ၊ ဗုဒ္ဓေါ၊ ဘဂဝါ။**

၁။ ကိလေသာတည်းဟူသော ရန်သူတို့ကို ပယ်သတ်တော်မူပြီးသော မြတ်စွာဘုရားပါတကား။

၂။ အလုံးစုံသောတရားတို့ကို ကိုယ်တိုင်မှန်စွာ သိတော်မူတတ်သော မြတ်စွာဘုရားပါတကား။

၃။ ဝိဇ္ဇာ(၃)ပါး၊ ဝိဇ္ဇာ(၈)ပါး၊ စရဏ(၁၅)ပါးတို့နှင့် ပြည့်စုံတော်မူပေသော မြတ်စွာဘုရားပါတကား။

၄။ ကောင်းသောစကားကို ဆိုတော်မူတတ်သော မြတ်စွာဘုရား ပါတကား။

၅။ လောက(၃)ပါးကို သိတော်မူတတ်သော မြတ်စွာဘုရား ပါတကား။

၆။ အတုမရှိ မြတ်တော်မူသည်ဖြစ်၍ မယဉ်ကျေးသော လူယောကျာ်း၊ နတ်ယောကျာ်း၊ တိရစ္ဆာန်ယောကျာ်းတို့ကို ယဉ်ကျေးအောင် ဆုံးမတော်မူတတ်သော မြတ်စွာဘုရား ပါတကား။

၇။ နတ်လူတို့၏ ဆရာတစ်ဆူဖြစ်တော်မူသော မြတ်စွာဘုရား ပါတကား။

၈။ သစ္စာလေးရပ် တရားမြတ်ကို ပိုင်းခြားထင်ထင် ကိုယ်တိုင် မြင်၍ သုံးခွင်ဘုံသား ဝေနေအားလည်း ဟောကြားမြွက်ဖော် သိစေတော်မူသော မြတ်စွာဘုရားပါတကား။

၉။ ဣဿရိယ, ဓမ္မ, ယသ, သိရီ, ကာမ, ပယတ္တ တည်းဟူသော ဘုန်းတော်ခြောက်စုံ ဘဂဂုဏ်တော်တို့နှင့် ပြည့်စုံတော်မူပေသော မြတ်စွာဘုရားပါတကား။

ဤ(၉)ပါးသော ဂုဏ်တော်တို့နှင့် ပြည့်စုံတော်မူသော မြတ်စွာဘုရားအား ရှိသေမြတ်နိုး လက်စုံမိုး၍ ရှိခိုးပါ၏။ မြတ်နိုးပါ၏၊ ကိုးကွယ်ပါ၏၊ ဆည်းကပ်ပါ၏ အရှင်မြတ်ဘုရား။

# တရားဂုဏ်တော် (၆)ပါး

**သွာက္ခာတော ဘဂဝတာ ဓမ္မော, သန္ဒိဋ္ဌိကော, အကာလိကော, ဧဟိပဿိကော, ဩပနေယျိကော, ပစ္စတ္တံ ဝေဒိတဗ္ဗော ဝိညူဟိ။**

၁။ မြတ်စွာဘုရားသည် ကောင်းစွာဟောကြားတော်မူအပ်သော ပရိယတ်, မဂ်, ဖိုလ်, နိဗ္ဗာန်တရား(၁၀)ပါး ပါတကား။

၂။ အရိယာပုဂ္ဂိုလ်တို့သည် ကိုယ်တိုင်ရှုမြင်အပ်ပြီးသော မဂ်, ဖိုလ်, နိဗ္ဗာန်တရား (၉)ပါး ပါတကား။

၃။ အခါမလင့် အခြားမဲ့ကာလ၌ ဖိုလ်အကျိုးကို ဖြစ်စေတတ်သော မဂ်တရား(၄)ပါး ပါတကား။

၄။ လာလှည့် ရှုလှည့်ဟု တိုက်တွန်းအပ်သော အစီအရင်ကို ခံထိုက်သော မဂ်, ဖိုလ်, နိဗ္ဗာန်တရား (၉)ပါး ပါတကား။

၅။ ကပ်၍ ဆောင်ယူခြင်းငှာထိုက်သော မဂ်, ဖိုလ်, နိဗ္ဗာန်တရား(၉)ပါး ပါတကား။

၆။ ဥဂ္ဃဋိတညူစသော အရိယာပုဂ္ဂိုလ်တို့သည် မိမိတို့၏စိတ်၌ သိအပ်ခံစားအပ်ပြီးသော မဂ်, ဖိုလ်, နိဗ္ဗာန်တရား(၉)ပါး ပါတကား။

ဤ(၆)ပါးသော ဂုဏ်တော်တို့နှင့် ပြည့်စုံတော်မူသော တရားတော် မြတ်အပေါင်းအား ရိုသေမြတ်နိုး လက်စုံမိုး၍ ရှိခိုးပါ၏၊ မြတ်နိုးပါ၏။ ကိုးကွယ်ပါ၏၊ ဆည်းကပ်ပါ၏ အရှင်မြတ်ဘုရား။

## သံဃာ့ဂုဏ်တော် (၉)ပါး

**သုပ္ပဋိပန္နော ဘဂဝတော သာဝကသံဃော၊**

**ဥဇုပ္ပဋိပန္နော ဘဂဝတော သာဝကသံဃော၊**

**ဉာယပ္ပဋိပန္နော ဘဂဝတော သာဝကသံဃော၊**

**သာမီစိပ္ပဋိပန္နော ဘဂဝတော သာဝကသံဃော၊**

**ယဒိဒံ စတ္တာရိ ပုရိသယုဂါနိ အဋ္ဌပုရိသပုဂ္ဂလာ၊**

**ဧသ ဘဂဝတော သာဝကသံဃော ။**

**အာဟုနေယျော၊**

**ပါဟုနေယျော၊**

**ဒက္ခိဏေယျော၊**

## အဋ္ဌလိကရဏီယော၊
## အနုတ္တရံ ပုညက္ခေတ္တံ လောကဿ။

၁။ ကောင်းသောအကျင့်ကို ကျင့်ပြီးကျင့်ဆဲဖြစ်သော အရိယာသံဃာ (၈)ပါး အပေါင်းပါတကား။

၂။ ဖြောင့်မတ်သောအကျင့်ကို ကျင့်ပြီးကျင့်ဆဲဖြစ်သော အရိယာသံဃာ (၈)ပါး အပေါင်းပါတကား။

၃။ နိဗ္ဗာန်အကျိုးငှာ ကျင့်ပြီးကျင့်ဆဲဖြစ်သော အရိယာသံဃာ (၈)ပါး အပေါင်းပါတကား။

၄။ ရိုသေမှုပြုထိုက်အောင် ကျင့်ပြီးကျင့်ဆဲဖြစ်သော အရိယာသံဃာ(၈)ပါး အပေါင်းပါတကား။

၅။ အဝေးမှဆောင်၍ လှူအပ်သော ပစ္စည်းလေးပါးတို့ကို အလှူခံထိုက်သော အရိယာသံဃာ(၈)ပါး အပေါင်းပါတကား။

၆။ ဧည့်သည်ကောင်းတို့အလို့ငှာ အထူးစီရင်အပ်သော အာဂန္တုကဒါနကို အလှူခံထိုက်သော အရိယာသံဃာ (၈)ပါး အပေါင်းပါတကား။

၇။ မြတ်သောအလှူကို ခံထိုက်သော အရိယာသံဃာ (၈)ပါး အပေါင်းပါတကား။

၈။ လက်အုပ်ချီမိုးခြင်းကို ခံထိုက်သော အရိယာသံဃာ (၈)ပါး အပေါင်းပါတကား။

၉။ လူအပေါင်း၏ ကောင်းမှုမျိုးစေ့၏ စိုက်ပျိုးကွဲချရာ အတုမရှိ လယ်ယာမြေကောင်းသဖွယ်ဖြစ်သော အရိယာသံဃာ (၈)ပါး အပေါင်းပါတကား။

ဤ(၉)ပါးသောဂုဏ်တော်တို့နှင့် ပြည့်စုံတော်မူပေသော အရိယာသံဃာတော်မြတ်အပေါင်းအား ရိုသေမြတ်နိုး လက်စုံမိုး၍ ရှိခိုးပါ၏၊မြတ်နိုးပါ၏၊ ကိုးကွယ်ပါ၏၊ ဆည်းကပ်ပါ၏ အရှင်မြတ်ဘုရား။

ဤသို့ ဘုရား တရား သံဃာ ရတနာ(၃)ပါး မိဘ ဆရာသမားတို့အား ရိုသေမြတ်နိုး လက်စုံမိုး၍ ရှိခိုးပူဇော် ဖူးမြော်မာန်လျှော့ ကန်တော့ရသော ပဏာမကုသိုလ်ကံ စေတနာ အပေါင်းတို့ကြောင့် အပြစ်ခပ်သိမ်း ဘေးခပ်သိမ်း ရန်ခပ်သိမ်း အန္တရာယ်ခပ်သိမ်းတို့မှ အခါခပ်သိမ်း ကင်းလွတ်ငြိမ်းပျောက် မကျရောက်ကုန်သည်ဖြစ်၍ မဂ်ဉာဏ်, ဖိုလ်ဉာဏ်, နိဗ္ဗာန်သို့ ရောက်ကြောင်း သူတော်ကောင်းတို့၏ အကျင့်တရား ဘာဝမခြား ကြိုးစားမယုတ် အားထုတ်နိုင်ရပါလို၏ အရှင်မြတ်ဘုရား။

*မန္တလေးမစိုးရိမ်တိုက်သစ်ဆရာတော် ဘဒ္ဒန္တနာယကာဘိဝံသ*

# မေတ္တာသုတ် မေတ္တာပွားနည်း ဆယ့်တစ်မျိုး

၁။ လုံးစုံများစွာ၊ သတ္တဝါ၊ ချမ်းသာကိုယ်စိတ်မြဲပါစေ။
ဥပါဒ်ရန်ဘေး၊ ကင်းစင်ဝေး၊ ငြိမ်းအေးကြပါစေ။
၂။ ကြောက်တတ် မကြောက်တတ်၊ နှစ်ရပ်များစွာ၊ သတ္တဝါ၊
ချမ်းသာကိုယ်စိတ်မြဲပါစေ။
ဥပါဒ်ရန်ဘေး၊ ကင်းစင်ဝေး၊ ငြိမ်းအေးကြပါစေ။
၃။ မြင်အပ် မမြင်အပ်၊ နှစ်ရပ်များစွာ၊ သတ္တဝါ၊ ချမ်းသာ
ကိုယ်စိတ်မြဲပါစေ။
ဥပါဒ်ရန်ဘေး၊ ကင်းစင်ဝေး၊ ငြိမ်းအေးကြပါစေ။
၄။ ဝေးနေ နီးနေ၊ နှစ်ထွေ များစွာ၊ သတ္တဝါ၊ ချမ်းသာ
ကိုယ်စိတ်မြဲပါစေ။
ဥပါဒ်ရန်ဘေး၊ ကင်းစင်ဝေး၊ ငြိမ်းအေးကြပါစေ။
၅။ ဘဝဇာတ်ဆုံး၊ မဆုံးများစွာ၊ သတ္တဝါ၊ ချမ်းသာကိုယ်စိတ်
မြဲပါစေ။
ဥပါဒ်ရန်ဘေး၊ ကင်းစင်ဝေး၊ ငြိမ်းအေးကြပါစေ။
၆။ ရှည်–တို–အလတ်၊ သုံးရပ်ခန္ဓာ၊ သတ္တဝါ၊ ချမ်းသာ
ကိုယ်စိတ်မြဲပါစေ။
ဥပါဒ်ရန်ဘေး၊ ကင်းစင်ဝေး၊ ငြိမ်းအေးကြပါစေ။
၇။ ကြီး–ငယ်–အလတ်၊ သုံးရပ်ခန္ဓာ၊ သတ္တဝါ၊ ချမ်းသာ
ကိုယ်စိတ်မြဲပါစေ။
ဥပါဒ်ရန်ဘေး၊ ကင်းစင်ဝေး၊ ငြိမ်းအေးကြပါစေ

၈။ ဆူ–ကြုံ–အလတ်၊ သုံးရပ်ခန္ဓာ၊ သတ္တဝါ၊ ချမ်းသာကိုယ်စိတ်မြဲပါစေ။
ဥပါဒ်ရန်ဘေး၊ ကင်းစင်ဝေး၊ ငြိမ်းအေးကြပါစေ။

၉။ လူအချင်းချင်း၊ (သတ္တဝါအချင်းချင်း)၊ လှည့်ပတ်ခြင်း၊ ကင်းရှင်းကြပါစေ။

၁၀။ အထင်သေးခြင်း၊ အချင်းချင်း၊ ကင်းရှင်းကြပါစေ။

၁၁။ ဆင်းရဲလိုခြင်း၊ အချင်းချင်း၊ ကင်းရှင်းကြပါစေ။
မေတ္တာသုတ်ပါဠိတော်ကို **မင်းကွန်းတိပိဋကဓရဆရာတော်** မြန်မာမှုပြုပါသည်။

# ခန္ဓသုတ်ပါဠိတော်နည်းကို အမှီပြုပြီး မေတ္တာပွားနည်း လေးမျိုး

(က) ခြေမရှိပါ၊ သတ္တဝါ၊ ချမ်းသာကိုယ်စိတ်မြဲပါစေ။
ဥပါဒ်ရန်ဘေး၊ ကင်းစင်ဝေး၊ ငြိမ်းအေးကြပါစေ။

(ခ) ခြေနှစ်ချောင်းရှိပါ၊ သတ္တဝါ၊ ချမ်းသာကိုယ်စိတ်မြဲပါစေ။
ဥပါဒ်ရန်ဘေး၊ ကင်းစင်ဝေး၊ ငြိမ်းအေးကြပါစေ။

(ဂ) ခြေလေးချောင်းရှိပါ၊ သတ္တဝါ၊ ချမ်းသာကိုယ်စိတ်မြဲပါစေ။
ဥပါဒ်ရန်ဘေး၊ ကင်းစင်ဝေး၊ ငြိမ်းအေးကြပါစေ။

(ဃ) ခြေအများကြီးရှိပါ၊ သတ္တဝါ၊ ချမ်းသာကိုယ်စိတ်မြဲပါစေ။
ဥပါဒ်ရန်ဘေး၊ ကင်းစင်ဝေး၊ ငြိမ်းအေးကြပါစေ။

# ငါးရာနှစ်ဆယ့်ရှစ် မေတ္တာပွားနည်း

## အနောဓိသပုဂ္ဂိုလ်ငါးယောက်

၁။ အားလုံးသောသတ္တဝါတွေ ဘေးရန်ခပ်သိမ်း ငြိမ်းကြပါစေ။
ဒေါသခပ်သိမ်း ငြိမ်းကြပါစေ။
ဆင်းရဲခပ်သိမ်း ငြိမ်းကြပါစေ။
နှလုံးစိတ်ဝမ်း အေးချမ်းကြပါစေ။

၂။ အားလုံးသောအသက်ရှိသူတွေ့ ႇ

၃။ အားလုံးသောထင်ရှားရှိသူတွေ့ ႇ

၄။ အားလုံးသောပုဂ္ဂိုလ်တွေ့ ႇ

၅။ အားလုံးသော ခန္ဓာကိုယ် အတ္တဘောရှိသူတွေ့ ႇ

## ဩဓိသပုဂ္ဂိုလ် ခုနစ်ယောက်

၁။ အားလုံးသောအမျိုးသမီးတွေ ဘေးရန်ခပ်သိမ်း ငြိမ်းကြပါစေ
ဒေါသခပ်သိမ်း ငြိမ်းကြပါစေ။
ဆင်းရဲခပ်သိမ်း ငြိမ်းကြပါစေ။
နှလုံးစိတ်ဝမ်း အေးချမ်းကြပါစေ။

၂။ အားလုံးသောအမျိုးသားတွေ့ ႇ

၃။ အားလုံးသော အရိယာပုဂ္ဂိုလ်တွေ ..

၄။ အားလုံးသော ပုထုဇဉ်ပုဂ္ဂိုလ်တွေ ..

၅။ အားလုံးသော နတ်, ဗြဟ္မာတွေ ..

၆။ အားလုံးသော လူသားတွေ ..

၇။ အားလုံးသော အပါယ်ဘုံသားတွေ ..

# အရပ်ဆယ်မျက်နှာ မေတ္တာပွားနည်း

၁။ အရှေ့အရပ်၌ရှိသော အားလုံးသောသတ္တဝါတွေ

ဘေးရန်ခပ်သိမ်း ငြိမ်းကြပါစေ။

ဒေါသခပ်သိမ်း ငြိမ်းကြပါစေ။

ဆင်းရဲခပ်သိမ်း ငြိမ်းကြပါစေ။

နှလုံးစိတ်ဝမ်း အေးချမ်းကြပါစေ။

အရှေ့အရပ်၌ရှိသော အားလုံးသောအသက်ရှိသူတွေ ..

အရှေ့အရပ်၌ရှိသော အားလုံးသောထင်ရှားရှိသူတွေ ..

အရှေ့အရပ်၌ရှိသော အားလုံးသောပုဂ္ဂိုလ်တွေ ..

အရှေ့အရပ်၌ရှိသော အားလုံးသော ခန္ဓာကိုယ်

အတ္တဘောရှိသူတွေ..

အရှေ့အရပ်၌ရှိသော အားလုံးသောအမျိုးသမီးတွေ ..

အရှေ့အရပ်၌ရှိသော အားလုံးသောအမျိုးသားတွေ ..
အရှေ့အရပ်၌ရှိသော အားလုံးသောအရိယာပုဂ္ဂိုလ်တွေ ..
အရှေ့အရပ်၌ရှိသော အားလုံးသောပုထုဇဉ်ပုဂ္ဂိုလ်တွေ..
အရှေ့အရပ်၌ရှိသော အားလုံးသောနတ်, ဗြဟ္မာတွေ..
အရှေ့အရပ်၌ရှိသော အားလုံးသောလူသားတွေ..
အရှေ့အရပ်၌ရှိသော အားလုံးသောအပါယ်ဘုံသားတွေ ...။

၂။ အရှေ့တောင်ထောင့်အရပ်၌ရှိသော အားလုံးသော သတ္တဝါတွေ..
၃။ တောင် အရပ်၌ရှိသော အားလုံးသော သတ္တဝါတွေ ..
၄။ အနောက် တောင်ထောင့် အရပ်၌ရှိသော အားလုံးသော သတ္တဝါတွေ ..
၅။ အနောက် အရပ်၌ရှိသော အားလုံးသော သတ္တဝါတွေ ..
၆။ အနောက် မြောက်ထောင့် အရပ်၌ရှိသော အားလုံးသော သတ္တဝါတွေ ..
၇။ မြောက်အရပ်၌ရှိသော အားလုံးသော သတ္တဝါတွေ ..
၈။ အရှေ့မြောက်ထောင့် အရပ်၌ရှိသော အားလုံးသော သတ္တဝါတွေ ..
၉။ အောက် အရပ်၌ရှိသော အားလုံးသော သတ္တဝါတွေ ..

၁၀။ အထက် အရပ်၌ရှိသော အားလုံးသော သတ္တဝါတွေ ..

ဘေးရန်ခပ်သိမ်း ငြိမ်းကြပါစေ။

ဒေါသခပ်သိမ်း ငြိမ်းကြပါစေ။

ဆင်းရဲခပ်သိမ်း ငြိမ်းကြပါစေ။

နှလုံးစိတ်ဝမ်း အေးချမ်းကြပါစေ။

***ပဋိသမ္ဘိဒါမဂ္ဂပါဠိတော်ကို မင်းကွန်းတိပိဋကဓရဆရာတော် မြန်မာမှု ပြုပါသည်။***

# ဝိသုဒ္ဓိမဂ်လာနည်းကို အမှီပြု၍ မေတ္တာပွားနည်း

ရုပ်နာမ်နှစ်ဖြာ ငါ့ခန္ဓာ ချမ်းသာကိုယ်စိတ်မြဲပါစေ။

တရားကျင့်ပါ ယောဂီမှာ ချမ်းသာကိုယ်စိတ်မြဲပါစေ။

(ဆွေမျိုးမတော်သောလိင်တူလေးစားစရာ ပုဂ္ဂိုလ်ကိုအာရုံပြု)။

ဂုဏ်တော်အနန္တာ မြတ်ဆရာ ချမ်းသာကိုယ်စိတ်မြဲပါစေ။

မိဘနှစ်ဖြာ ဂုဏ်နန္တာ ချမ်းသာကိုယ်စိတ်မြဲပါစေ။

ဆွေမျိုးရင်းချာ အားလုံးမှာ ချမ်းသာကိုယ်စိတ်မြဲပါစေ။

မိတ်ဆွေသဟာ အားလုံးမှာ ချမ်းသာကိုယ်စိတ်မြဲပါစေ။

မချစ်မမုန်းပါ ပုဂ္ဂိုလ်မှာ ချမ်းသာကိုယ်စိတ်မြဲပါစေ။

မုန်းစိတ်ဝင်ပါ ပုဂ္ဂိုလ်မှာ ချမ်းသာကိုယ်စိတ်မြဲပါစေ။

ရန်သတ္တုပြုပါ ပုဂ္ဂိုလ်မှာ ချမ်းသာကိုယ်စိတ်မြဲပါစေ။
တို့အိမ်တွင်းမှာ များသတ္တာ ချမ်းသာကိုယ်စိတ်မြဲပါစေ။
တို့ကျောင်းတွင်းမှာ များသတ္တာ ချမ်းသာကိုယ်စိတ်မြဲပါစေ။
တို့ရေိယာတွင်းမှာ များသတ္တာ ချမ်းသာကိုယ်စိတ်မြဲပါစေ။
တို့မြို့တွင်းမှာ များသတ္တာ ချမ်းသာကိုယ်စိတ်မြဲပါစေ။
တို့နိုင်ငံတွင်းမှာ များသတ္တာ ချမ်းသာကိုယ်စိတ်မြဲပါစေ။
တို့ကမ္ဘာတွင်းမှာ များသတ္တာ ချမ်းသာကိုယ်စိတ်မြဲပါစေ။
တို့စကြာဝဠာတွင်းမှာ များသတ္တာ ချမ်းသာကိုယ်စိတ်မြဲပါစေ။
အနန္တစကြာဝဠာ များသတ္တာ ချမ်းသာကိုယ်စိတ်မြဲပါစေ။

## ဓမ္မပူဇာဖြင့် ရတနာသုံးပါးကိုပူဇော်ရန်

**ဣမာယ ဓမ္မာနုဓမ္မပဋိပတ္တိယာ ဗုဒ္ဓံ ပူဇေမိ။**

မဂ်လေးတန်, ဖိုလ်လေးတန်, နိဗ္ဗာန်ဟုဆိုအပ်သော ဤလောကုတ္တရာတရားကိုးပါးအား လျော်သောအကျင့်မြတ်ဖြင့် ဘုရားတပည့်တော်သည် သက်တော်ထင်ရှား သဗ္ဗညုမြတ်စွာ ဘုရားကို ပူဇော်ပါ၏ အရှင်ဘုရား။

**ဣမာယ ဓမ္မာနုဓမ္မပဋိပတ္တိယာ ဓမ္မံ ပူဇေမိ။**

မဂ်လေးတန်, ဖိုလ်လေးတန်, နိဗ္ဗာန်ဟုဆိုအပ်သော

ဤလောကုတ္တရာတရားကိုးပါးအား လျော်သောအကျင့်မြတ်ဖြင့် ဘုရားတပည့်တော်သည် တရားတော်မြတ်အပေါင်းကို ပူဇော်ပါ၏ အရှင်ဘုရား။

**ဣမာယ ဓမ္မာနုဓမ္မပဋိပတ္တိယာ သံဃံ ပူဇေမိ။**

မဂ်လေးတန်, ဖိုလ်လေးတန်, နိဗ္ဗာန်ဟုဆိုအပ်သော ဤလောကုတ္တရာ တရားကိုးပါးအား လျော်သောအကျင့်မြတ်ဖြင့် ဘုရားတပည့်တော်သည် သံဃာတော်မြတ်အပေါင်းကို ပူဇော်ပါ၏ အရှင်ဘုရား။

# ဆုတောင်းအမျှပေးဝေရန်

ဤသို့ပြုရ မြတ်ပုညကြောင့် ချမ်းမြအေးကြည် ဘေးမဲ့မည်သည် ရွှေပြည်ထုတ်ချောက် လမ်းမကောက်ဘဲ ရောက်ရပါလို ထိုထိုဘဝ ကျင်လည်ရလဲ ဒုက္ခဘေးဒဏ် ရန်မာန်အပေါင်း မကောင်းဟူသမျှ မတွေ့ရဘဲ သဗ္ဗဣစ္ဆာ မင်္ဂလာကို ရွယ်ကာတ, တိုင်းရစေသော်။

ယနေ့ယခု ပြုပြုသမျှ မြတ်ဘာဂကို မိဘဆရာ မျိုးသဟာနှင့် ကိုယ်မှာစောင့်ကြပ် ကိုယ်စောင့်နတ်က အရင်းစ၍ ရှိသမျှလုံးစုံ ဘုံသုံးဆယ့်တစ် ဖြစ်ဖြစ်သမျှ ဝေနေယျတို့ ရကြပါစေ ပေးငှဝေသည် များထွေ သာဓု ခေါ်စေသော်။

    

## စာအုပ်အလှူရှင်များ

(၁) အန်တီအေး၊ အန်တီညို၊ အထည်ဆိုင်၊ လှည်းတန်းဈေး။ အမှတ်(၃၆)၊ လှည်းတန်း(၇)လမ်း၊ ကမာရွတ်မြို့နယ်၊ ရန်ကုန်မြို့။

(၂) ဒေါက်တာကျော်မိုးနိုင် + ဒေါ်မာမာဌေး မြကန်သာအိမ်ယာ။

(၃) မမီမီဌေး(ခ)မကေကေ
**MARCOPOLO** Travels & Tours

(၄) ဦးထွန်းမြအား အမှူးထား၍ ဦးမောင်မောင် + ဒေါ်တင်တင် မိသားစု ကျွန်းလှမြို့သစ်။